မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ
ရင်းနှီးမြှုပ်နှံလိုသူ၏အတည်ပြုလျှောက်ထားလွှာ

# ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်
# ဆိပ်ကမ်းသာလမ်း ၊ စက်မှုဇုန်အပိုင်း(၇)၊မြေကွက်အမှတ်(၁၂၁)
# တွင်ကုန်တင်/ချဆိပ်ခံတံတားတည်ဆောက်ပြီး
# ကုန်သေတ္တာများကို တင်/ချ ၊ထိန်းသိမ်း၊ပို့ဆောင်ခြင်းလုပ်ငန်း

မုတ္တမလောဂျစ်တစ်(စ်)ကုမ္ပဏီလီမိတက်

Mottama Logistics Co., Ltd.

ပုံစံ(၄ - က)

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်းရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံသူ၏အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရက်စွဲ၊ ၂၀၁၈ခုနှစ်၊ ဇူလိုင်လ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၃၇နှင့်အညီ အောက်ဖော်ပြပါအချက်များအားဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကို တင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

| | | | |
|---|---|---|---|
| (က) | အမည် | - | ဒေါ်ရောက်ဖွေ |
| (ခ) | ကုမ္ပဏီမှတ်ပုံတင်အမှတ် | - | ၄၀၁၃ / ၂၀၁၇ -၂၀၁၈ (ရက) |
| | နိုင်ငံသားစိစစ်ရေးကဒ်အမှတ် / | - | ၁၃/လရန(နိုင်) ၁၁၇၀၀၀ |
| | နိုင်ငံကူးလက်မှတ်အမှတ် | - | |
| (ဂ) | နိုင်ငံသား | - | ကိုးကန့် |
| (ဃ) | နေရပ်လိပ်စာ/မှတ်ပုံတင်ထားသည့် ကုမ္ပဏီလိပ်စာ | - | အမှတ်(၁၂၄/က-ခ) , စက်မှုဇုန်အပိုင်း(၂) ဆိပ်ကမ်းသာလမ်း၊ ရွှေပြည်သာမြို့နယ် ၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) | တယ်လီဖုန်း/ဖက်စ် / အီးမေးလ် လိပ်စာ | - | 09 52 32468<br>zhojeans@gmail.com |
| (စ) | လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြရန်) | - | ကုန်တင်/ချကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး၊ ကုန်သေတ္တာတင်/ချခြင်း ၊ ထိန်းသိမ်းပို့ဆောင်ရေးနှင့် သိုလှောင်ခြင်း လုပ်ငန်း၊လုပ်ငန်းအသေးစိတ်အား နောက်ဆက်တွဲဖြင့် ဖော်ပြအပ်ပါသည်။ |

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်း မဟုတ်ပါက လျှောက်ထားသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | |
| (ခ) | ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည် (လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက) | - | |
| (ဂ) | နိုင်ငံသားစိစစ်ရေးကတ်အမှတ် / နိုင်ငံကူးလက်မှတ်အမှတ် | - | |
| (ဃ) | နိုင်ငံသား | - | |
| (င) | မြန်မာနိုင်ငံတွင် နေထိုင်သည့်လိပ်စာ | - | |
| (စ) | တယ်လီဖုန်း/ဖက်စ် | - | |

(ဃ) အီးမေးလ်လိပ်စာ -

(တရားဝင် ကိုယ်စားလှယ်လွှဲစာအား နောက်ဆက်တွဲဖြင့် ပူးတွဲတင်ပြအပ်ပါသည်။)

၃။ ဖွဲ့စည်းမည့်စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

☐ ရာနှိုင်းနှုန်းပြည့် ☐ ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)

☐ အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့် ဆောင်ရွက်ခြင်း ( စာချုပ်မူကြမ်းတင်ပြရန်)

မြန်မာနိုင်ငံသား၏ ရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး - ၁၀၀%

အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး -

နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူများ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး -

၄။ အစုရှယ်ယာ ၁၀% နှုန်းနှင့်အထက် ပိုင်ဆိုင်သောအစုရှယ်ယာရှင်များနှင့် ဒါရိုက်တာစာရင်းအား နောက်ဆက်တွဲ (က) ဇယားဖြင့် ဖော်ပြအပ်ပါသည် ။

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု |
|---|---|---|---|
| ၁။ | ဒေါ်ရှောက်ဖွေ (Mottama Trading Co.,Ltd. Represented by) | မြန်မာ | ၁ |
| ၂။ | ဒေါ်ရှောက်ဆီ (Mottama Holding Co., Ltd. Represented by) | မြန်မာ | ၄,၉၉၉ |
| | စုစုပေါင်း | | |
| | | | ၅,၀၀၀ |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်း နှင့် သက်ဆိုင်သော အချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း - ကျပ်-၂၀,၀၀၀,၀၀၀,၀၀၀(ကျပ်သန်းနှစ်သောင်းတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ - ကျပ်၁၀၀,၀၀၀ /- ( သာမန်အစုရှယ်ယာ) အစုရှယ်ယာ ( ၂၀၀,၀၀၀)စု

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်း သို့မဟုတ် ဖွဲ့စည်းပုံအခြေခံစည်းမျဉ်းမိတ္တူအား ပူးတွဲတင်ပြအပ်ပါသည်။

၆။ မတည်ငွေရင်းနှင့် သက်ဆိုင်သည့် အချက်အလက်များ -

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း **ကျပ် / US$ (သန်းပေါင်း)**

ပမာဏ/ရာနှိုင်းနှုန်း - ၁၄,၆၃၆.၄၅ (၁၀၀%)

(ခ) နိုင်ငံခြားမှယူဆောင်လာမည့် မတည်ငွေရင်း

ပမာဏ/ရာနှိုင်းနှုန်း -

(ဂ) စုစုပေါင်း

မှတ်ချက်။ ရင်းနှီးမြှုပ်နှံမည့် အသေးစိတ်စာရင်းအား နောက်ဆက်တွဲဖြင့်ပူးတွဲတင်ပြအပ်ပါသည်။ - ၁၄,၆၃၆.၄၅ **(ကျပ်သန်းပေါင်း)**

၇။ ဈေးကွက်နှင့် သက်ဆိုင်သည့် အချက်အလက်များ -

☐ ပြည်တွင်းဈေးကွက် - ရှိပါသည်။

☐ ပြည်ပချေးငွေ -

မှတ်ချက်။ ကျပ် ၁၀,၀၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်သောင်းတိတိ)ကို ရောဂတီဘဏ်လီမိတက်မှ ချေးယူပါမည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၅၀ နှစ် ( နောက်ထပ် သက်တမ်းတိုး(၁၀) နှစ် (၂)ကြိမ် )

၉။ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းတည်ဆောက်မှုကာလ သို့မဟုတ် ပြင်ဆင်မှုကာလ - (၁၈)လ(တစ်နှစ် နှင့်ခြောက်လ)

၁၀။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်း နှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ(များ)/တည်နေရာ - အမှတ်(၁၂၁)၊စက်မှုဇုန်အပိုင်း(၇) ဆိပ်ကမ်းသာလမ်း ၊လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး / ပမာဏ - ၁၄,၆၃၆ . ၄၅ (ကျပ်သန်းပေါင်း)

၁၁။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း ☐ ရှိ ။ ☐ မရှိ - မရှိပါ။

၁၂။ အတည်ပြုလျှောက်ထားလွှာနှင့်အတူ အောက်ဖော်ပြပါလျှောက်ထားလွှာများကို တင်ပြလျှောက်ထားခြင်းရှိ/မရှိ ဖော်ပြရန်-

☐ မြေအသုံးပြုခွင့်လျှောက်ထားလွှာ - မရှိပါ

☐ အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ - ရှိပါသည်၊ သီးခြားတင်ပြပါမည်။

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့်အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါကြောင်း အာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတွင် အတည်ပြုမိန့်ထုတ်ပေးရန်အတွက် ကော်မရှင်မှစိစစ်ရာ၌ လိုအပ်သည့်အချက်အလက်များကို လျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါက အတည်ပြုလျှောက်ထားလွှာကို ငြင်းပယ်ခြင်း သို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်းကို ကောင်းစွာသဘောပေါက်နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှချမှတ်မည့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

အမည် ၊ Daw Shouk Phway

ရာထူး ၊ Managing Director

ဌာန/ကုမ္ပဏီတံဆိပ် ၊ Mottama Logistic Co., Ltd.

# MOTTAMA LOGISTIC COMPANY LIMITED

No.124/Ka-Kha, Seikkanthar Street, Industrial Zone (2),

Shwe Pyi Thar Township, Yangon Region.

---

စာအမှတ် ။ ၀၀၁ / ဆိပ်ကမ်း - ၂၀၁၇ / မုတ္တမ

ရက်စွဲ ။ ၂၀၁၇ ခုနှစ်၊ ဒီဇင်ဘာလ (၂၈)ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

Mottama Logistic Co., Ltd.
No..........
Date..........

အကြောင်းအရာ ။ **ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်းတည်ဆောက်ခွင့်ပြုပါရန် လျှောက်ထားခြင်း**

၁။ ကျွန်တော်များ Mottama Logistic Co., Ltd. သည် ပြည်ပနိုင်ငံများမှ ဆောက်လုပ်ရေးနှင့် အထွေထွေကုန်ပစ္စည်းများအားတင်သွင်းပြီး၊ ပြည်တွင်း၌ ဖြန့်ဖြူးရောင်းချခြင်းကို ဆောင်ရွက်လျက်ရှိပါသည်။ မိမိကုမ္ပဏီမှ ကုန်ပစ္စည်းများနှင့်အတူ၊ မိတ်ဖက်ပုဂ္ဂလိကပိုင်ကုမ္ပဏီများ၊ အဖွဲ့အစည်းများ၏ အထွေထွေကုန်ပစ္စည်းများအား သယ်ယူပို့ဆောင်ခြင်း ဆောင်ရွက်ရန်အတွက် ရေယာဉ်များ ဆိုက်ကပ်နိုင်ရန် ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ရန် လိုအပ်လျက်ရှိပါသည်။

၂။ နိုင်ငံတော်၏စီးပွားရေး ဖွံ့ဖြိုးတိုးတက်လာသည်နှင့်အညီ၊ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ဝန်ကြီးချုပ်၏လမ်းညွှန်ချက်များအရလည်းကောင်း၊ ကုန်တွင်းဆိပ်ခံတံတားများတည်ဆောက်၍ ကုန်းတွင်းရေလမ်းကြောင်းများဖြင့် ကုန်ပစ္စည်းများပို့ဆောင်နိုင်ရန်အတွက်၊ ကျွန်တော်များ ကုမ္ပဏီမှ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (စက်မှုဇုန်အပိုင်း ၇)၊ မြေကွက်အမှတ် (၁၂၁)၊ မြေ (၆.၆၃၄)ဧကပေါ်တွင် ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်လိုပါသည်။

၃။ Mottama Logistic Co., Ltd. မှ တည်ဆောက်မည့် ဆိပ်ခံတံတား၏ အရွယ်အစားမှာ စုစုပေါင်း ပင်မဆိပ်ခံတံတား မျက်နှာစာအလျား (၆၄၀)ပေ x အကျယ် (၁၉၇) ပေ ဖြစ်ပါသည်။ အဆိုပါဆိပ်ခံတံတားသည် မြစ်အတွင်းသို့ ပေ (၅၀) ခန့်သာ ထိုးထွက်နေမည်ဖြစ်ပြီး၊ အဆိုပါ ဆိပ်ခံတံတားတွင် ကုမ္ပဏီပိုင်ပစ္စည်းများနှင့် အခြားပုဂ္ဂလိကပိုင် ကုန်စည်များတင်ဆောင်နိုင်သော ရေယာဉ်များဆိုက်ကပ်၍ ကုန်တင်/ချနှင့် ကုန်သေတ္တာ (Container) လုပ်ငန်းများ ဆောင်ရွက်မည်ဖြစ်ပါသည်။

၄။ Mottama Logistic Co., Ltd. အနေဖြင့် အဆိုပါဆိပ်ခံတံတားတည်ဆောက်ရေးလုပ်ငန်းအတွက် စုစုပေါင်း ငွေကျပ် (၆,၅၀၀,၀၀၀,၀၀၀/-) ခန့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပြီး၊ ၎င်းဆိပ်ခံတံတားကို တည်ဆောက်ရေးကာလမှ (၁၈) လခန့် ကြာမြင့်နိုင်မည်ဖြစ်ပါသည်။

**MOTTAMA LOGISTIC COMPANY LIMITED**
No.124/Ka-Kha, Seikkanthar Street, Industrial Zone (2),
Shwe Pyi Thar Township, Yangon Region.

၅။ Mottama Logistic Co., Ltd. အနေဖြင့် အဆိုပါဆိပ်ခံတံတားကို ငွေကြေးအမြောက်အမြား ကုန်ကျခံရင်းနှီးမြှုပ်နှံ၍ တည်ဆောက်ရမည်ဖြစ်သဖြင့်၊ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကနဦး (၅၀)နှစ်နှင့် နောက်ထပ်သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်နှင့် သက်တမ်း(၂)ကြိမ်၊ (၅၀+၁၀+၁၀)နှစ် တိုးမြှင့်ခွင့်ပြုပေးနိုင်ပါရန်နှင့် ဌာနမှချမှတ်ပေးထားသော စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၆။ Mottama Logistic Co., Ltd. အနေဖြင့် အဆိုပါဆိပ်ခံတံတားကို တည်ဆောက်ခွင့်ပြုကာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုခြင်းအတွက် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ ကျသင့်သည့် မြေငှားရမ်းခကိုလည်း ပေးဆောင်သွားမည်ဖြစ်ပါသည်။

၇။ Mottama Logistic Co., Ltd. ၏ ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်မည့် အထောက်အထားနှင့် Propose Jetty Design များကို ပူးတွဲတင်ပြအပ်ပါသည် -

(က) ကုမ္ပဏီမှတ်ပုံတင်လက်မှတ် မိတ္တူ၊

(ခ) မြေဂရန်မိတ္တူ၊

(ဂ) တည်ဆောက်လိုသည့် ဆိပ်ခံတံတား Design

(ဃ) တိုင်းတာရေး ရေပုံမိတ္တူ၊

၈။ သို့ဖြစ်ပါ၍ ကွန်ကရစ်ဆိပ်ခံတံတားတည်ဆောက်ခြင်းအား ခွင့်ပြုပေးနိုင်ပါရန် လေးစားစွာဖြင့် တင်ပြတောင်းခံအပ်ပါသည်။

လေးစားစွာဖြင့်-

Daw Shouk Phway
Managing Director
Mottama Logistic Co., Ltd.

မိတ္တူကို-

- ရုံးလက်ခံ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ Jeffy - 2
ပို့ဆောင်ရေး နှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
**မြန်မာ့ဆိပ်ကမ်းအာဏာပိုင်**
No. 10, Pansodan Street, Yangon, Myanmar. Tel: (95-1) 379141, 246375, 387116 Fax: (95-1) 391355, 384737.
P.O. Box. No. 1, Email: mpa@mptmail.net.mm, http://www.mpa.gov.mm


စာအမှတ်၊ ဆက/မြို့ပြ(မှတ္တမ)/ ၉၀ /၂၀၁၇
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီ လ ၁၂ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်များရယူရန်ကိစ္စ**

ရည်ညွှန်းချက်။ Mottama Logistic Co., Ltd ၏ ၂၉.၁၂.၂၀၁၇ ရက်စွဲပါ စာအမှတ်၊ ၀၀၁/ ဆိပ်ကမ်း-၂၀၁၇/ မုတ္တမ

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (စက်မှုဇုန်အပိုင်း ၇)၊ မြေကွက်အမှတ်(၁၂၁)၊ မြေ(၆.၆၃၄)ဧကပေါ်တွင် ၆၄၀' x ၁၉၇' အရွယ် ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်းတည်ဆောက်ခွင့်ပြုပါရန် Mottama Logistic Co., Ltd မှ ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ခြင်းနှင့်ပတ်သက်၍ မြန်မာ့ဆိပ်ကမ်း အာဏာပိုင်၏ ၁၀.၁.၂၀၁၈ ရက်နေ့တွင် ပြုလုပ်ခဲ့သည့် စီမံခန့်ခွဲရေးဆိုင်ရာ အစည်းအဝေးဆုံးဖြတ်ချက်အရ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုး တိုးတက်ရေးဦးစီးဌာနတို့၏ သဘောထားမှတ်ချက်များရယူရန် လိုအပ်ပါကြောင်း အကြောင်းကြားအပ်ပါသည်။

စိုးသိန်း
အင်ဂျင်နီယာချုပ်(မြို့ပြ)

မန်နေဂျင်းဒါရိုက်တာ
Mottama Logistic Co., Ltd

12.1.18(Mottama)LH

# MOTTAMA LOGISTIC COMPANY LIMITED

No.124/Ka-Kha, Seikkanthar Street, Industrial Zone (2),

Shwe Pyi Thar Township, Yangon Region.

---

သို့

ညွှန်ကြားရေးမှူးချုပ်
ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
ရန်ကုန်မြို့။

စာအမှတ်။ ။ ၁၁/ဆိပ်ကမ်း - ၂၀၁၈/မုတ္တမ
ရက်စွဲ ။ ။ ၂၀၁၈ခုနှစ်၊ဇန်နဝါရီလ(၂၄) ရက်

အကြောင်းအရာ။ ။ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ခွင့်ပြုပါရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ လျှောက်ထားခြင်းကို တင်ပြခြင်း။

၁။ အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ Mottama Logistics Co.,Ltd. သည် ပြည်ပနိုင်ငံများမှ ဆောက်လုပ်ရေးနှင့် အထွေထွေကုန်ပစ္စည်းများအားတင်သွင်းပြီး ၊ ပြည်တွင်း၌ ဖြန့်ဖြူးရောင်းချခြင်းကို ဆောင်ရွက်လျက်ရှိပါသည်။ မိမိကုမ္ပဏီမှ ကုန်ပစ္စည်းများနှင့်အတူ မိတ်ဖတ်ပုဂ္ဂလိကပိုင်ကုမ္ပဏီများ ၊ အဖွဲ့အစည်းများ၏ အထွေထွေကုန်ပစ္စည်းများအား ရန်ကုန်တိုင်းဒေသကြီးအတွင်းနှင့် ပြည်တွင်းအခြားဒေသများသို့ သယ်ယူပို့ဆောင်ခြင်းကို ကုန်းလမ်းကြောင်းနှင့် ရေလမ်းကြောင်းများဖြင့် ဆောင်ရွက်ပေးလျက်ရှိပါသည်။

၂။ နိုင်ငံတော်၏စီးပွားရေး ဖွံ့ဖြိုးတိုးတက်လာသည်နှင့်အညီ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ဝန်ကြီးချုပ်မှ ရန်ကုန်တိုင်းဒေသကြီးအတွင်း အထူးသဖြင့် စက်မှုဇုန်များတွင် ကုန်းတွင်းဆိပ်ခံတံတားများတည်ဆောက်၍ ကုန်တွင်းရေကြောင်းလမ်းများဖြင့် ကုန်ပစ္စည်းများသယ်ယူပို့ဆောင်မှု ပေးနိုင်ရန်အတွက် လမ်းညွှန်ချက်များ ပေးထားခဲ့ပါသည်။

၃။ အဆိုပါလမ်းညွှန်ချက်များနှင့်အညီ **Mottama Logistics Co.,Ltd.** မှ ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ မြေတိုင်းရပ်ကွက် ၊ အမှတ် (စက်မှုဇုန်အပိုင်း ၇) ၊ မြေကွက်အမှတ် (၁၂၁) ၊ မြေ (၆.၆၃၄) ဧကပေါ်တွင် ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ခွင့်ပြုပေးပါရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ တင်ပြခဲ့ပါသည်။

၄။ **Mottama Logistics Co.,Ltd.** မှ တည်ဆောက်မည့် ဆိပ်ခံတံတား၏အရွယ်အစားမှာ ပူးတွဲပါအတိုင်း စုစုပေါင်းပင်မဆိပ်ခံတံတား မျက်နှာစာအလျား (၆၄၀) ပေ X အကျယ် (၁၉၇) ပေ ဖြစ်ပါသည်။ အဆိုပါဆိပ်ခံတံတားတွင် ကုန်စည်များတင်ဆောင်နိုင်သော ရေယာဉ်များ ဆိုက်ကပ်၍ကုန်တင်/ချ နှင့် ကုန်သေတ္တာ (Container) လုပ်ငန်းများဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ကွန်ကရစ်ဆိပ်ခံတံတားတည်ဆောက်ခြင်းကို ခွင့်ပြုပေးနိုင်ပါရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ တင်ပြထားခြင်းကို လမ်းညွှန်မှုနှင့်သဘောထားမှတ်ချက်များ ပေးပါရန် လေးစားစွာ တင်ပြတောင်းခံအပ်ပါသည်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
ရေအရင်းအမြစ်နှင့်မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
နေပြည်တော်

စာအမှတ်၊ ၇ / ရလထ / ရအန - ၁၀၂ / ၂၀၁၈
ရက် စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၃၁ ရက်

အကြောင်းအရာ။ **ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ခွင့်ပြုပါရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ လျှောက်ထားခြင်းကို တင်ပြခြင်း**

ရည်ညွှန်းချက်။ Mottama Logistic Co.,Ltd ၏ (၂၄-၁-၂၀၁၈) ရက်စွဲပါ စာအမှတ် ၀၁/ ဆိပ်ကမ်း- ၂၀၁၈/ မုတ္တမ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ် (စက်မှုဇုံ အပိုင်း ၇)၊ မြေကွက်အမှတ် (၁၂၁)၊ မြေ (၆.၆၃၄) ဧကပေါ်တွင် ကွန်ကရစ်ဆိပ်ခံတံတားတစ်စင်း တည်ဆောက်ခွင့်ပြုပေးပါရန် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်သို့ တင်ပြထားခြင်းအား လမ်းညွှန်မှုနှင့် သဘောထားမှတ်ချက်ပေးပါရန် Mottama Logistic Co.,Ltd မှ ရည်ညွှန်းချက်ပါစာဖြင့် တင်ပြလာပါသည်။

၂။ အဆိုပါဆိပ်ခံတံတား ဆောင်ရွက်မည့်နေရာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်၏ ရေလမ်းနယ်မြေအတွင်းဖြစ်ပါသဖြင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့်သာ ဆက်လက်ဆောင်ရွက်သွားရန် အကြောင်းကြားပါသည်။

ညွှန်ကြားရေးမှူးချုပ် (ကိုယ်စား)
(ဝင်းလှိုင်-ညွှန်ကြားရေးမှူး)

**Mottama Logistic Co.,Ltd**

မိတ္တူကို
- တင်ပြစာတွဲ
- ရုံးလက်ခံ



CONTROLLED

FOR CONSTRUCTION

Sign : Phy

Name : Phyu Phyu

Date : 17/10/2017

[redacted]

1 THE LOCATION OF PROPOSED PROJECT SITE AREA IS AT THE WEST BANK OF HLAING RIVER, BETWEEN AUNG ZAYA BRIDGE AND SHWE PYI THAR BRIDGE

2 THAT AREA IS ERODED AREA

3 SUB-SOIL IS VERY SOFT

| REV | DESCRIPTION | DATE | DRAWN | CHECKED | APPROVED |
|---|---|---|---|---|---|
| | | | | | |

Mottama Trading Co., Ltd

Mottama Trading Co., Ltd

CONSTRUCTION OF R.C. JETTY
HLAING THARYAR TOWNSHIP

CONSTRUCTION OF R.C. JETTY

PROPOSED SITE LOCATION

| | | | |
|---|---|---|---|
| DATE | | JOB NO: | |
| SCALE | | DRAWING NO | REV NO |
| DRAWN | | DIGITAL FILE NAME | |
| CHECKED | | | |
| APPROVED | | SHEET OF | |

| | |
|---|---|
| SURVEYED BY DPS GROUP | |
| DRAWING BY U KHIN MG LWIN | |
| CONTOUR INTERVAL | 3 METERS |
| TBM | RL = 7.478 |
| Auto CAD 2010 | LAND DESKTOP 2009 |
| SURVEY DATE | 12 - 6 - 2017 |

# HLAING RIVER

## HLAINGTHARYAR TOWNSHIP
## SURVEYED IN JUNE 2017
## UNITS IN METERS
## SCALE 1 : 790

MOTTAMA TRADING CO.,LTD
PILING PLAN ON BATHYMETRY




## PILING PLAN ON BATHYMETRY

SCALE (1:790)

[redacted]

NOTES

1. ALL DIMENSIONS ARE IN FPS UNIT SYSTEM (FEET) UNLESS STATED OTHERWISE IN THE DRAWING.

| REV | DESCRIPTION | DATE | DRAWN | CHECKED | APPROVED |
|---|---|---|---|---|---|
| | | | | | |
| | | | | | |
| | | | | | |

OWNER

Mottama Trading Co., Ltd

DESIGN

Mottama Trading Co., Ltd

MAIN CONTRACTOR

PROJECT NAME AND LOCATION

CONSTRUCTION OF R.C. JETTY
HLAING THARYAR TOWNSHIP

PROJECT DESCRIPTION

CONSTRUCTION OF R.C. JETTY

DRAWING TITLE

PLAN ON BATHYMETRY




| REBAR CAGE TYPE TABLE | | | |
|---|---|---|---|
| SYMBOL | REBAR CAGE TYPE | LENGTH (m) | NO |
| O | TYPE A | 28.0 | 67 |
| ◎ | TYPE B | 31.5 | 38 |
| O | TYPE C | 34.0 | 73 |
| O | TYPE D | 34.5 | 516 |
| O | TYPE E | 41.5 | 131 |
| TOTAL | | | 825 |

- 600mm BORED PILE (140 NOS)
- 500mm BORED PILE (685 NOS)

## PILING PLAN (REBAR CAGE TYPE)

SCALE (1:650)

CONTROLLED

FOR C[illegible]

Name : Phyu Phyu

Date : 27/10/17

NOTES

1 ALL DIMENSIONS ARE IN FPS UNIT SYSTEM (FEET) UNLESS STATED OTHERWISE IN THE DRAWING

| REV | DESCRIPTION | DATE | DRAWN | CHECKED | APPROVED |
|---|---|---|---|---|---|
| | | | | | |

OWNER

Mottama Trading Co., Ltd

DESIGN

Mottama Trading Co., Ltd

MAIN CONTRACTOR

PROJECT NAME AND LOCATION

CONSTRUCTION OF R.C. JETTY
HLAING THARYAR TOWNSHIP

PROJECT DESCRIPTION

CONSTRUCTION OF R.C. JETTY

DRAWING TITLE

PILING PLAN (REBAR CAGE TYPE)

# နှစ်ဦးနှစ်ဘက်သဘောတူ မြေငှားရမ်းခြင်းကတိစာချုပ်

ရက်စွဲ။ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ရက်

ဤစာချုပ်သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံ၊ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဖုန်(၇)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ် (၁၂၁)ရှိ မြေဧက(၆.၆၃၄)အား ငှားရမ်းခြင်းအတွက်ချုပ်ဆိုသော သဘောတူစာချုပ်ဖြစ်ပြီး၊ အောက်ဖော်ပြပါ မြေပိုင် ဆိုင်သူဦးရန်ဟော်ကတစ်ဖက် နှင့် မြေငှားရမ်းသူ ဒေါ်ရှောက်ဖွေ ( Managing Director/ Mottama Logistic Co., Ltd) ကအခြားတစ်ဖက်တို့ အကြား နှစ်ရှည်ငှားရမ်းခြင်းအတွက် ငှားရမ်းချုပ်ဆိုသော မြေငှားစာချုပ်ဖြစ်ပါသည်-

မြေပိုင်ဆိုင်သူ ။ ဦးရန်ဟော် ( ၁၃/လရန(နိုင်) ၀၉၂၂၇၉)
ဒေါ်ရှောက်ဆီ (၉/မရတ(နိုင်) ၁၀၇၂၁၅)
လိပ်စာ- လိပ်စာ ၅/ဇ-၂/၂ အောင်မင်္ဂလာလမ်း၊ (၄) ရပ်ကွက် ၊ မရမ်းကုန်းမြို့ နယ်၊ ရန်ကုန်မြို့။
ဖုန်း-09-5020446
( ပိုင်ဆိုင်ခွင့်အကြုံးဝင်သော မိသားစုဝင်များ၊ ၎င်း၏ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်)

မြေငှားရမ်းသူ ။ ဒေါ်ရှောက်ဖွေ ( ၁၃/လရန(နိုင်) ၁၁၇၀၀၀)
Managing Director ( Mottama Logistic Co.,Ltd.)
လိပ်စာ-၅/ဇ-/၂အောင်မင်္ဂလာလမ်း၊(၄)ရပ်ကွက်၊မရမ်းကုန်းမြို့ နယ်၊ ရန်ကုန်မြို့။ (ဖုန်း၊ ၊ 095232468)
(၎င်း၏တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည်)

(က) " မြေပိုင်ဆိုင်သူ" သည် "ငှားရမ်းသည့်မြေ" ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့် ရှိကြောင်း တာဝန်ခံလျှက် အာမခံချက်ပေးပါသည်။

(ခ) " မြေပိုင်ဆိုင်သူ" သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဖုန်(၇)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၂၁)ရှိ မြေနေရာ (၆.၆၃၄) ဧက (နောင်တွင် "ငှားရမ်းသည့်မြေ" ဟုခေါ်ဆိုမည်) ကို ငှားရမ်းလိုသော ဆန္ဒရှိပြီး၊ "မြေငှားရမ်းသူ" ကလည်း "ငှားရမ်းသည့်မြေ"တွင် ကုန်သေတ္တာ(Container)များ တင်/ချရန်၊ သိုလှောင်ထိန်းသိမ်းပို့ဆောင်ရန်အတွက် Warehouse လုပ်ငန်း ဆောင်ရွက်ရန်အတွက် ကွန်ကရစ်ဆိပ်ခံတံတား အပါအဝင် အထောက်အကူပြု အဆောက်အဦးများ ဆောက်လုပ်ရန်အတွက် ငှားရမ်းလိုပါသဖြင့် ဤမြေငှားစာချုပ်ကို အောက်တွင်ဖော်ပြသည့် စည်းကမ်းချက်များနှင့်အညီ နှစ်ဦးနှစ်ဘက် သဘောတူညီနိုင်း သတ်မှတ်ပြီး လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်-

## သဘောတူစည်းကမ်းချက်များ

၁။ ငှားရမ်းသည့်မြေနေရာမှာ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ ဖုန်(၇)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၂၁)ရှိ မြေနေရာ (၆.၆၃၄) ဧက ဖြစ်ပါသည်။

၂။ အထက်ဖော်ပြပါ ငှားရမ်းမြေနေရာအတွက် တစ်စတုရန်မီတာ လျှင် ငှားရမ်းခနှုန်း အမေရိကန်ဒေါ်လာ၂.၅ (US$ 2.5) နှင့် ညီမျှသော မြန်မာကျပ်ငွေဖြင့် ပေးချေငှားရမ်းရန်ကို နှစ်ဦးနှစ်ဘက်သဘောတူကြပါသည်။

၃။ ငှားရမ်းသက်တမ်းကာလမှာ ဤစာချုပ် စတင်ချုပ်ဆိုပြီး ငွေပေးချေသည့်နေ့ (၁-၇-၂၀၁၈ )မှ (၃၀- ၆-၂၀၆၈)ထိ အနှစ်(၅၀) ဖြစ်ပါသည်။

၄။ ဤမြေငှားစာချုပ်သည် စာချုပ်ပေါ်တွင် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်မှုရှိသည်။

၅။ ငှားရမ်းခငွေများကို နှစ်စဉ်တစ်နှစ်တစ်ကြိမ်ပေးချေရန် သဘောတူပြီး ပထမနှစ်ငှားရမ်းခြင်းအတွက် ကျသင့်သော မြေ(၆.၆၃၄) ဧကငှားရမ်းခ ( ကျပ် ) အား ဤမြေငှားစာချုပ် ချုပ်ဆိုသည့်ရက်( - - ) နေ့တွင် ငှားရမ်းသူ ဒေါ်ရှောက်ဖွေ မှ ပေးချေရာ ဦးရန်ဟော်မှ လည်း လက်ခံရရှိကြောင်း ဝန်ခံပါသည်။

၆။ "မြေငှားရမ်းသူ" သည် " မြေပိုင်ဆိုင်သူ" အားအောက်ပါအတိုင်း ကတိဝန်ခံချက်ပြုပါသည်-

(က) "ငှားရမ်းသည့်မြေ"၏ အားလုံးကိုသော်လည်းကောင်း ၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း ထပ်ဆင့် အငှားချထားခြင်း၊ ပေါင်နှံခြင်း ၊ရောင်းချခြင်းမပြုရန်၊

(ခ) "ငှားရမ်းသည့်မြေ" ပေါ်တွင် ဥပဒေနှင့်ငြိစွန်းနိုင်သော လုပ်ငန်းများကို လုပ်ဆောင်ခြင်းမပြုရန်၊

(ဂ) " မြေပိုင်ဆိုင်သူ" ကိုယ်စားတာဝန်ပေးခံရသူမှ လာရောက်ခြင်းအား ဝင်ရောက်ခွင့်ပြုပေးရန်

(ဃ) "ငှားရမ်းသည့်မြေ"၏ အားလုံး (သို့မဟုတ်) တစ်စိတ်တစ်ဒေသအပေါ်တွင် စီးပွားရေးလုပ်ငန်းလုပ်ဆောင်ခြင်းအတွက် ပေးဆောင်ရန်ရှိသော အခွန်အခအရပ်ရပ် (မြေခွန်မပါ) ကို မြေငှားရမ်းသူမှ ပေးချေရန်။

၇။ " မြေပိုင်ဆိုင်သူ" သည် "မြေငှားရမ်းသူ" အား အောက်ပါအတိုင်း ဝန်ခံကတိပြုပါသည်-

(က) " မြေပိုင်ဆိုင်သူ"သည် "ငှားရမ်းသည့်မြေ" အားလက်ရောက်ပေးအပ်ရမည်၊

(ခ) "မြေငှားရမ်းသူ" အားမြေငှားစာချုပ် သက်တမ်းကာလအတွင်း မည်သည့်အနှောက်အယှက် အဟန့်အတားမရှိစေဘဲ လုပ်ငန်းများကို ဆောင်ရွက်ခွင့်ပြုပေးရန်၊

(ဂ) " မြေပိုင်ဆိုင်သူ"သည် "ငှားရမ်းသည့်မြေ"အတွက် မြေခွန်များကို ပေးဆောင်ရန်၊

၈။ "မြေငှားရမ်းသူ"သည် ဤမြေငှားစာချုပ် ချုပ်ဆိုခြင်းအတွက် ပေါ်ပေါက်လာသည့် တံဆိပ်ခေါင်းခွန်နှင့် ငှားရမ်းမြေပေါ်တွင် လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ပေါ်ပေါက်သော အခြားအခွန်အခအရပ်ရပ်ကို ပေးဆောင်ရန်တာဝန်ရှိပါသည်။

၉။ ဤမြေငှားစာချုပ် ပါအချက်အလက်များကို ပြင်ဆင်မည်ဆိုပါက " မြေပိုင်ဆိုင်သူ" နှင့် "မြေငှားရမ်းသူ" တို့ န စ်ဦးနှစ်ဘက် သဘောတူချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုချက်ရယူပြီး ပြင်ဆင်ရန် သဘောတူညီကြပါသည်။

၁၀။ "မြေငှားရမ်းသူ"သည် ငှားရမ်းမြေပေါ်တွင် အရေးကြီးသော မည်သည့်ပစ္စည်းတွေ့ရှိမှုကိုမဆို " မြေပိုင်ဆိုင်သူ"သို့ ချက်ခြင်း အသိပေးအကြောင်းကြားရန် သဘောတူပါသည်။ (ဥပမာ ၊ ရှေးဟောင်းပစ္စည်းများ၊ သဘာဝသယံဇာတများ)

၁၁။ "မြေငှားရမ်းသူ"သည် ဤမြေငှားစာချုပ် ပါစည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက်ခြင်း၊ ဖေါက်ဖျက်ခြင်းများရှိပါက အဆိုပါပျက်ကွက်မှုအတွက် " မြေပိုင်ဆိုင်သူ" က ထုတ်ပြန်အကြောင်းကြားသည့်စာရပြီး ရက်ပေါင်း(၃၀) အတွင်း ပြန်လည်ပြင်ဆင်ရမည်။ သတ်မှတ်ရက်အတွင်း ပြန်လည်ပြင်ဆင်မှုမပြုလုပ်ခဲ့ပါက " မြေပိုင်ဆိုင်သူ" သည် ဤစာချုပ်ပါ "ငှားရမ်းသည့်မြေ" ကို ပြန်လည်သိမ်းယူခွင့်ရှိသည်၊ ထိုသို့သိမ်းယူပြီးချိန်မှစ၍ မြေငှားရမ်းမှုကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ အတည်ပြုချက်ဖြင့် ရပ်စဲရမည်။

၁၂။ "မြေငှားရမ်းသူ"၏ ပေါ့ဆမှုကြောင့် ဆုံးရှုံးမှုများအတွက် သက်ဆိုင်ရာ "မြေငှားရမ်းသူ" တွင်သာ တာဝန်ရှိကြောင်း သဘောတူညီကြပါသည်။

၁၃။ ဤမြေငှားစာချုပ် သက်တမ်းအတွင်း မလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် (သဘာဝဘေးအန္တရာယ်၊ စစ်ဖြစ်ခြင်း၊ အစိုးရ၏ တားမြစ်ကန့်သတ်ချက် ၊ တရားဥပဒေစိုးမိုးမှုပျက်ပြားခြင်း စသည်များ) ငှားရမ်းခြင်းကို ထိခိုက်ဆုံးရှုံးခဲ့ပါက ၎င်းအတွက် " မြေပိုင်ဆိုင်သူ" သို့ လျော်ကြေးတောင်းခံခွင့်မရှိကြောင်း သဘောတူပါသည်၊ အဆိုပါဖြစ်ရပ်တခုခုကြောင့် ဆုံးရှုံးမှုများကို " မြေပိုင်ဆိုင်သူ" သို့ (၁၀)ရက်အတွင်း စာဖြင့်အကြောင်းကြားခဲ့ပြီး " မြေပိုင်ဆိုင်သူ" က လက်ခံသဘောတူပါက မြေငှားရမ်းခနှုန်းကို သက်သာလျှော့ပေါ့ပေးရန် ညှိနှိုင်းခွင့်ပြုနိုင်ပါသည်။

၁၄။ ဤမြေငှားစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစုံတရာ ပေါ်ပေါက်ခဲ့ပါက နှစ်ဦးနှစ်ဘက်ပြေလည်စွာ ညှိနှိုင်းဖြေရှင်းရန်နှင့် ဖြေရှင်း မရပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံးအဆုံးအဖြတ်ကို လိုက်နာခံယူကြရန် သဘောတူညီကြ ပါသည်။

၁၅။ ဤမြေငှားစာချုပ်ကို အကြောင်းတစ်ရပ်ရပ်ကြောင့်ရပ်စဲလိုပါက ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ၍ နှစ်ဘက်သဘောတူညီချက်ဖြင့် ရပ်စဲနိုင်သည်။

၁၆။ ဤမြေငှားစာချုပ် ငှားရမ်းသက်တမ်း ကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းကြရန် ဆန္ဒရှိခဲ့ပါက ငှားရမးသက်တမ်း မကုန်ဆုံးမီ (၆) လအတွင်း နှစ်ဦးနှစ်ဘက်ကြိုတင်ညှိနှိုင်း၍ ဆက်လက်သက်တမ်းတိုးချုပ်ဆိုရန် သဘောတူညီကြပါသည်။ ငှားရမ်းသက်တမ်း တိုးမြှင့်ခြင်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြ၍ အတည်ပြုချက်ရယူရမည်။

၁၇။ ငှားရမ်းသက်တမ်း ကုန်ဆုံးခြင်း (သို့မဟုတ်) ရပ်စဲခြင်းအတွက် "မြေငှားရမ်းသူ"က ဆောက်လုပ်ထားသော အဆောက်အဦးများ ကို တန်ဘိုးသတ်မှတ်ပြီး " မြေပိုင်ဆိုင်သူ" သို့လွှဲပြောင်းနိုင်သည်၊ " မြေပိုင်ဆိုင်သူ"က လက်ခံနိုင်ခြင်းမရှိပါက "မြေငှားရမ်းသူ"သည်မိမိ အစီအစဉ်ဖြင့် ဖယ်ရှားပေးရမည်။

အထက်ဖော်ပြပါ စာချုပ်ပါစည်းကမ်းချက်များကို နှစ်ဦးနှစ်ဘက်သဘောတူညီချက်ဖြင့် သိရှိသဘောတူပါသဖြင့် သက်သေ ထင်ရှားစေရန်အတွက် ဤမြေငှားစာချုပ်ပေါ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

(မြေပိုင်ဆိုင်သူ)

(မြေငှားရမ်းသူ)

အမည်- ဦးရန်ဟော်
မှတ်ပုံတင်- ၁၃/လရန(နိုင်)၀၉၂၂၇၉

အမည်- ဒေါ်ရှောက်ဖွေ
မှတ်ပုံတင်-၁၃/လရန(နိုင်)၁၁၇၀၀၀

အသိသက်သေများ

အမည်- ဦးအောင်တင်ထွန်း
မှတ်ပုံတင်- ၉/မကန(နိုင်)၀၇၉၈၆၈

အမည်- ဒေါ်ခင်မာမြင့်
မှတ်ပုံတင်- ၁၂/သကတ(နိုင်)၁၀၇၄၇၅

# (ခွင့်ပြုမိန့်) ဆောင်ရွက်ရန်အတွက်သာ မြေငှားစာချုပ်

A 0032221 A

K 5000

နေ့စွဲ၊ ၂၀၁၇ခုနှစ်၊ နိုဝင်ဘာ လ၊ ၂၇ ရက်

မြေငှားစာချုပ်အမှတ် ၇၃၁/ပသယ-၄၄၀/၁၇ ........ အမှုတွဲအမှတ် ...

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ မြို့ပြစီမံကိန်းနှင့် မြေစီမံ ခန့်ခွဲမှုဌာန (နောင်တွင် **"အငှားချထားသူ"** ဟု ရည်ညွှန်းသည်။ အငှားချထားသူဆိုသည့် စကားရပ်တွင် ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာနကို ဆက်ခံသူများ၊ အဆိုပါဌာနက လွှဲအပ်သူများလည်း ပါဝင်သည်။)

၁။ ဦး ကျော်မြင့်ကျမ်း နှင့် ၂။ ဦး ကျော်လှိုင်

....ရန်ကုန်.... မြို့နေ ဦး ကျော်သိုက် .... ၏ သား/သမီးဖြစ်သော ဦး/ဒေါ် ကျော်ကျော်ဆင့်........ နိုင်ငံသား/

အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/ လသန (နိုင်) ၀၉၂၂၇၉ / ၉/ မရက (နိုင်) ၁၀၇၂၁၅ ........ (နောင်တွင် **"အငှားစာချုပ်ရသူ"** ဟုရည်ညွှန်းသည်။)

**တို့** ၁၃........ ခုနှစ်၊..................လဆန်း/လပြည့်ကျော် ..................ရက်နေ့၊ ၂၀၁၇.......... ခုနှစ်၊ နိုဝင်ဘာ...... လ ..၂၇.... ရက်နေ့တွင် အောက်ပါအတိုင်း မြေငှားစာချုပ် ချုပ်ဆိုကြသည်။

အငှားစာချုပ်ရသူက နောက်တွင် သတ်မှတ်ထားသည့် မြေငှားခကို ပေးဆောင်ရန် သဘောတူသောကြောင့်လည်းကောင်း၊ နောက်တွင်ပါရှိသော ပဋိညာဉ်ခံစားချက်ကို ပြုသောကြောင့်လည်းကောင်း၊ အောက်ပါဇယား၌ ဖော်ပြထားသော မြေကွက်အားလုံးကို ထိုမြေကွက်နှင့် သက်ဆိုင်သော ပိုင်ဆိုင်ခွင့်များ၊ ဝင်-ထွက်သွားလာနိုင်ခွင့် စသော သက်သာခွင့်များနှင့် အခြားအခွင့်အရေးများနှင့်တကွ အငှားချထားသူက အငှားစာချုပ်ရသူအား ဤစာချုပ်ဖြင့် အငှားချထားသည်။ အဆိုပါမြေကွက်အတွင်း မြေပေါ် မြေအောက်ရှိ သတ္တုတွင်းများ၊ ဓါတ်သတ္တုပစ္စည်းများ၊ ကျောက်မျက်ရတနာများ၊ မြေမြှုပ်ဘဏ္ဍာများ၊ ကျောက်မီးသွေး၊ ရေနံနှင့် ကျောက်မိုင်း စသည်တို့သည် ဤစာချုပ်ဖြင့် အငှားချထားခြင်း၌မပါဝင်ချေ။ ထိုသို့ ရှာဖွေတူးဖော်သယ်ဆောင်ရာ၌ အဆိုပါမြေကွက်၏ မျက်နှာပြင်ကို နှောင့်ယှက် ပျက်စီး စေခဲ့လျှင် အငှားစာချုပ်ရသူအား သင့်လျော်သောလျော်ကြေးကို အငှားချထားသူက ပေးရမည်။ ထိုလျော်ကြေးနှင့် စပ်လျဉ်း၍ အငြင်းဖြစ်ပွားခဲ့သော် လျော်ကြေးကို တည်ဆဲမြေသိမ်းအက်ဥပဒေ သို့တည်းမဟုတ် စည်းမျဉ်းဥပဒေများ၏ ပြဋ္ဌာန်းချက်နှင့်အညီ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးကဆုံးဖြတ်ရမည်။

ထို့ကြောင့် ဤစာချုပ် ချုပ်ဆိုသည့် ၂၇-၁၁-၂၀၁၇ နေ့မှစ၍ နှစ်ပေါင်း ...၆၀.... ကာလအပိုင်းအခြားအတွက် လက်ရှိထားနိုင်ရန် အငှားစာချုပ်ရသူအား အဆိုပါ မြေကွက်ကိုအငှားချထားသည်။

နှစ်ပေါင်း ( ၆၀ ) မြေငှားစာချုပ်ကာလအပိုင်းအခြားတွင်၊ ၂၀၇၇ ခုနှစ်၊ ...နိုဝင်ဘာ...... လ ...၂၆.. ရက် နေ့၌ကုန်ဆုံးသည့် ပထမ ( ၁၅ ) နှစ်အတွင်းတွင် သုံးလပတ်အတွက် မြေငှားရမ်းခငွေ ကျပ် ......၆၆၃၂/-...................

(ကျပ် ကိုးထောင်ခြောက်ရာသုံးဆယ့်နှစ် တိတိ) ကို ဇန်နဝါရီလ၊ ဧပြီလ၊ ဇူလိုင်လ နှင့် အောက်တိုဘာလများ၏လဆန်း (၁) ရက်နေ့များတွင် ကြိုတင်ပေးဆောင်ရမည်။ အဆိုပါ နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြား၏ ဒုတိယ၊ တတိယ နှင့် စတုတ္ထ(၁၅) နှစ်စီအတွက် အပိုဒ်(၃)တွင် ပြဋ္ဌာန်းထားသည့် နည်းလမ်းအတိုင်း အငှားချထားသူအား သတ်မှတ်သည့် မြေငှားခများကို အငှားစာချုပ်ရသူက ပေးဆောင်ရမည်။

ခက်မှု/ဆက်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက်သာ

၁။ အငှားစာချုပ်ရသူသည် အငှားချထားသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက် ပြုလုပ်သည် ~

(က) အထက်၌ မြေငှားခကိုပေးဆောင်ရန် သတ်မှတ်သည့်နေ့ရက်တွင် သတ်မှတ်သည့်နည်းလမ်းအတိုင်း မြေငှားခနှင့် အဆိုပါမြေကွက်ပေါ်၌လည်းကောင်း၊ ထိုမြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံပေါ်၌ လည်းကောင်း၊ အငှားစာချုပ်ရသူအပေါ်၌လည်းကောင်း၊ အဆိုပါ နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြားအတွင်း စည်းကြပ်ဆဲ၊ စည်းကြပ်လတ္တံ့ဖြစ်သော အခွန်အတုပ်အားလုံးကို ပေးဆောင်ရမည်။

(ခ) ဤစာချုပ်ချုပ်ဆိုသည့်နေ့မှ ( ၆ ) လအတွင်း စတင်ဆောက်လုပ်၍ အဆိုပါမြေကွက်ပေါ်တွင် ကောင်းမွန်ခိုင်ခံ့သော လူနေအိမ်ကို ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ) မှ သတ်မှတ်ခွင့်ပြုသည့် ပုံစံအတိုင်း ရန်ကုန်မြို့တော်စည်ပင်သာယာရေးဥပဒေနှင့်အညီ ပြီးစီးအောင် ဆောက်လုပ်ရန်နှင့် ထိုလူနေအိမ် စသည်တို့ကို အဆိုပါနှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြားအတွင်းပြုပြင်မွမ်းမံထားရှိရန်။

(ဂ) အဆိုပါမြေကွက် တည်ရှိသောရပ်ကွက်၌ သက်ဆိုင်ရာ ဒေသန္တရအာဏာပိုင်များက မိလ္လာပိုက်များနှင့် ရေပိုက်များချထားလျှင် ဒေသန္တရအာဏာပိုင်နှင့် သက်ဆိုင်သည့် တရားဥပဒေနှင့်အညီ အဆိုပါမြေကွက်ပေါ် ဆောက်လုပ်ထားသော အဆောက်အအုံများကို ထိုမိလ္လာပိုက်၊ ရေပိုက်များနှင့် ဆက်သွယ်ရန်။

(ဃ) အဆိုပါမြေကွက်ပေါ်၌ အဆောက်အအုံများ တည်ဆောက်ရာတွင် ဒေသန္တရအာဏာပိုင် (သို့မဟုတ်) ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ အင်ဂျင်နီယာဌာန (အဆောက်အအုံ) ၏ ကြိုတင်ခွင့်ပြုချက် ရယူရန်။

(င) အငှားချထားသူ၏ စာဖြင့်သဘောတူညီချက်ကို ကြိုတင်မရရှိဘဲ နှစ်ပေါင်း ( ၆၀ ) ကာလ အပိုင်းအခြားအတွင်း အဆိုပါမြေကွက်ကို လူနေအိမ်ဆောက်လုပ်ရန်အတွက်မှတပါး အခြားကိစ္စအတွက် အသုံးမပြုရန်နှင့် အဆိုပါမြေကွက်ပေါ်တွင် ဆောက်လုပ်သည့်လူနေအိမ်ကို၊ လူနေအိမ်အဖြစ်မှတပါး အခြားနည်းအသုံးမပြုရန်။

(စ) အငှားချထားသူ၏ စာဖြင့် ကြိုတင်သဘောတူညီချက်မရရှိဘဲ စာချုပ်ပါမြေကို ခွဲခြမ်းခြင်းမပြုရသည့်အပြင် ၎င်းမြေ၏ တစ်စိတ်တစ်ဒေသကိုလည်း လွှဲပြောင်းခြင်း၊ တဆင့်ငှားရမ်းခြင်း၊ လက်လွှတ်ခြင်းများ မပြုလုပ်ရ။

(ဆ) ဤစာချုပ်နှင့် စပ်လျဉ်း၍ မည်သည့်ကိစ္စအတွက်မဆို အဆိုပါမြေကွက်သို့ဖြစ်စေ၊ အဆိုပါ မြေကွက်ပေါ်တွင် ဆောက်လုပ်ထားသော အဆောက်အအုံသို့ဖြစ်စေ၊ နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြားတွင် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူး၏ အမိန့်အရ ဆောင်ရွက်သူများအား နေ့ပိုင်းသင့်လျော်သည့် အချိန်များတွင် ဝင်ရောက်ခွင့်ပြုရန်။

(ဇ) ဤစာချုပ်အရ အငှားချထားသည့် နှစ်ပေါင်း ( ၆၀ ) အပိုင်းအခြား ကုန်ဆုံးသောအခါ အဆိုပါ မြေကွက် တည်ရှိသည့် အဆောက်အအုံနှင့် ယင်းအဆောက်အအုံတွင် ပါဝင်တည်ဆောက်ထားသော ပစ္စည်းများ မပါဝင်စေဘဲ အဆိုပါမြေကွက်ကို အငှားချထားသူအား အေးဆေးစွာပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် အငှားချထားသူက အပိုဒ် ( ၂ ) အရ အဆိုပါမြေကွက်ကို ပြန်လည်သိမ်းယူပြီး စာချုပ်ကိုရုပ်စဲလျှင် အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင်တည်ရှိသည့် အဆောက်အအုံနှင့် ယင်း၏အဆောက်အအုံတွင် ပါဝင်တည်ဆောက်ထား သော ပစ္စည်းများကို အငှားစာချုပ်ရသူက အငှားချထားသူအား အေးဆေးစွာပေးအပ်ရန်။

## အဆိုပါပဋိညာဉ်ခံချက်များ

ဖော်ပြပါ မြေငှားခနှုန်းသည် ယာယီမျှသာဖြစ်၍ ၂၀ ...၁၇...ခုနှစ် အတွင်းတွင်ဖြစ်စေ၊ ထို့နောက် အချိန်ကာလတွင်ဖြစ်စေ၊ ပြန်လည်ပြင်ဆင်သင့်က ပြင်ဆင်စည်းကြပ်ရန် ဖြစ်သည်။

၂။ အဆိုပါမြေငှားခကို တောင်းဆိုသည်ဖြစ်စေ၊ မတောင်းဆိုသည်ဖြစ်စေ၊ ကြိုတင်ပေးဆောင်ရမည့် သုံးလပတ်အတွက် မြေငှားခကို (သို့တည်းမဟုတ်) ၎င်းအစိတ်အပိုင်းကို ထိုသုံးလပတ်၏ ဒုတိယ လဦးပိုင်းတွင် မပေးဆောင်သဖြင့် မြေငှားခမပြေကျန်ရှိနေလျှင်၊ သို့တည်းမဟုတ် အငှားစာချုပ်ရသူသည် အထက်တွင်ဖော်ပြပါရှိသည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်ရန် ပျက်ကွက်လျှင်၊ ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူးသည် အဆိုပါမြေငှားခကိုရယူရန် ချက်ချင်းအမှုဖွင့်နိုင်သည်။ ထို့ပြင် သို့တည်းမဟုတ် ယခင်က ပဋိညာဉ်ခံချက် ပျက်ကွက်ခြင်းအတွက် အရေးယူပိုင်ခွင့်ကိုဖြစ်စေ၊ အဆိုပါမြေကွက် ပြန်လည်သိမ်းယူနိုင်ခွင့်ကိုဖြစ်စေ၊ စွန့်လွှတ်ခဲ့စေကာမူ ဤစာချုပ်ကို ပယ်ဖျက်၍ အဆိုပါမြေကွက်နှင့် ထိုမြေကွက်ပေါ်တွင် တည်ရှိသော အဆောက်အအုံများ၊ အဆောက်အအုံများနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို သိမ်းယူနိုင်သည်။

၃။ အငှားချထားသူသည် အငှားစာချုပ်ရသူအား အောက်ပါအတိုင်း ပဋိညာဉ်ခံချက်ပြုလုပ်သည် ~

(က) အပိုဒ် ( ၂ ) အရ ဤစာချုပ်ကို ပယ်ဖျက်ကြောင်း နို့တစ်စာကို အငှားချထားသူက မိမိသင့်လျော်သည်ဟု ထင်မြင်သည့် နည်းလမ်းအတိုင်း အငှားစာချုပ်ရသူ၏ နောက်ဆုံးသိရှိရသော လိပ်စာတပ်ပြီး မှတ်ပုံတင်ပြုလုပ်၍ စာပို့တိုက်မှ ပေးပို့နိုင်သည်။ သို့တည်းမဟုတ် ဆိုခဲ့သည့်အတိုင်း လိပ်စာတပ်၍ နို့တစ်စာကို အဆိုပါမြေကွက်၊ အဆောက်အအုံ စသည့် ပစ္စည်းများ၏ ထင်ရှား၍ လူအများမြင်သာသော နေရာတွင် ကပ်ထားနိုင်သည်။ အဆိုပါနို့တစ်စာကို ပြဆိုသည့် နည်းလမ်းအတိုင်း ပေးပို့ခြင်း၊ ကပ်ထားခြင်း၊ ပြုလုပ်ပြီးနောက် ရက်ပေါင်း ( ၆၀ ) အတွင်း အငှားစာချုပ်ရသူက အဆိုပါဌာနမှူးအား မပြေကျန်ရှိနေသေးသော မြေငှားခကို ဤစာချုပ်ပယ်ဖျက်ခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက် ပြန်လည်သိမ်းယူခြင်း၊ သို့တည်းမဟုတ် အဆိုပါမြေကွက်ကို ပြန်လည်အငှားချထားခြင်းနှင့် စပ်လျဉ်း၍ အငှားချထားသူ ကကုန်ကျသော စရိတ်အားလုံးနှင့်တကွ အဆိုပါဌာနမှူးသို့ ပေးဆောင်လျှင်သော်လည်းကောင်း၊ အခြားပဋိညာဉ်ခံချက် တစ်ခုခုနှင့် စပ်လျဉ်း၍ ပျက်ကွက်သည့်အတွက် နစ်နာမှုကိုပပျောက်စေရန် အဆိုပါဌာနမှူး ကျေနပ်လောက်အောင် ဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူက ဤစာချုပ်ပါ ပဋိညာဉ်ခံချက်များအတိုင်း နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြား၏ ကျန်ရှိသေးသောကာလအဖို့ အဆိုပါမြေကွက်နှင့် ပြန်လည်သိမ်းယူသည့် အချိန်တွင် ထိုမြေကွက်ပေါ်၌ တည်ရှိနေသော အဆောက်အအုံ၊ ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို လက်ရှိထားနိုင်စေခြင်းငှာ အငှားစာချုပ်ရသူအား ပြန်လည်ပေးအပ်ရန်၊ သို့ရာတွင် မီးကြောင့်သော်လည်းကောင်း၊ အခြားအကြောင်း တစ်ခုခုကြောင့်သော်လည်းကောင်း၊ ပျက်စီးရသည့် အဆောက်အအုံ သို့တည်းမဟုတ် ထိုအဆောက်အအုံနှင့် အမြဲတွယ်ကပ်ထားသော ပစ္စည်းများကို ပြန်လည်ပေးအပ်ရန် အငှားချထားသူ၌ တာဝန်မရှိသည့်အပြင် ယင်းသို့ ပြန်လည်သိမ်းယူသည့်အခါ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေး ကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၏ အမှုထမ်းများ သို့တည်းမဟုတ် ကိုယ်စားလှယ်များ၏ ဖျက်လိုဖျက်စီး ပြုလုပ်မှုကြောင့် ဆုံးရှုံးပျက်စီးခြင်းအတွက်မှတပါး အဆိုပါမြေကွက်ပေါ်တွင်ဖြစ်စေ၊ အထဲတွင်ဖြစ်စေ၊ တည်ရှိနေသော အဆောက်အအုံနှင့် အခြားပစ္စည်းများ၏တန်ဖိုး ယုတ်လျော့ခြင်း၊ ပြုပြင်မှုကင်းမဲ့ခြင်း၊ သို့တည်းမဟုတ် ပျက်စီးယိုယွင်းခြင်းအတွက် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၌ တာဝန်မရှိစေရန်။

စက်မှု/လယ်ယာမှုလုပ်ငန်းဆောင်ရွက်ရန်အတွက်သာ

(ခ) အပိုဒ် ( ၂ ) အရ ဤစာချုပ်ကို ပယ်ဖျက်ပြီး မဟုတ်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူက နှစ်ပေါင်း ( ၆၀ ) ကာလအပိုင်းအခြား ကုန်ဆုံးသည်အထိ အဆိုပါမြေငှားခကို ပြေလည်အောင် ပေးဆောင်၍ ဤစာချုပ်ပါ မိမိပြုလုပ်သည့် ပဋိညာဉ်ခံချက်များအတိုင်း လိုက်နာဆောင်ရွက်လျှင်သော်လည်းကောင်း၊ အငှားစာချုပ်ရသူသည် အဆိုပါမြေကွက်ပေါ်တွင် တည်ဆောက်တွယ်ကပ်ထားသော အဆောက်အအုံများ၊ အဆောက်အအုံများ နှင့် အမြဲ တွယ်ကပ်ထားသော ပစ္စည်းများကို အဆိုပါကာလအပိုင်းအခြား မကုန်မီ ( ၆ ) လအတွင်း ဖျက်သိမ်း သယ်ယူ ခန့်ခွဲနိုင်သည်။ သို့ရာတွင် ထိုသို့သယ်ယူခြင်းကြောင့် အဆိုပါမြေကွက် ပျက်စီးယိုယွင်းခဲ့လျှင် ထိုမြေကွက်ကို မူလ အခြေအနေအတိုင်းရှိအောင် ပြုပြင်ပေးရန်။

(ဂ) ......၂၀၁၂.....ခုနှစ်၊ ...နိုဝင်ဘာ..........လ၊ .......၂၆.....ရက်နေ့မှစ၍ ပထမ ( ၁၅ ) နှစ် ကုန်ဆုံးသောအခါ ဒုတိယ ( ၁၅ ) နှစ်အတွက် ရန်ကုန်မြို့တော်စည်ပင်သာယာရေး မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ ဒုတိယ ( ၁၅ ) နှစ်ကုန်ဆုံးသောအခါ တတိယ ( ၁၅ ) နှစ် အတွက် အဆိုပါ မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ်မြေငှားခကိုလည်းကောင်း၊ တတိယ ( ၁၅ ) နှစ်ကုန်ဆုံးသောအခါ စတုတ္ထ ( ၁၅ ) နှစ်အတွက် အဆိုပါ မြေနည်းဥပဒေ ၂၄ အရ စည်းကြပ်သော သုံးလပါတ် မြေငှားခကိုလည်းကောင်း၊ အငှားစာချုပ်ရသူက အငှားချထားသူအား ပေးဆောင်ရန်၊ အကယ်၍ အထက်ပါ နည်းဥပဒေအတိုင်း မြေငှားခကို ပြန်လည်စည်းကြပ်ခြင်းမပြုလျှင် အငှားစာချုပ်ရသူသည် ဤအပိုဒ်ခွဲတွင် ပြဋ္ဌာန်းထားသည့် နည်းဥပဒေအတိုင်း မြေငှားခကို ပြောင်းလဲခြင်းမပြုမီ သတ်မှတ်ထားသည့် စည်းကြပ်ဆဲ သုံးလပါတ် မြေငှားခကို ဆက်လက်ပေးဆောင်ရန်။

(ဃ) ဤစာချုပ်ပါ အခြားပြဋ္ဌာန်းချက်များတွင် ဆန့်ကျင်လျက်မည်သို့ပင် ပါရှိစေကာမူ ဤစာချုပ်ချုပ်ဆိုသည့် နေ့မှစ၍ ပထမနှစ်ပေါင်း ( ၃၀ ) အတွင်း သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော မြေငှားခကို ပြေလည်အောင် ပေးဆောင်ခဲ့သောကြောင့်လည်းကောင်း၊ ပြုလုပ်ထားသော ပဋိညာဉ်ခံချက်များကို မပျက်မကွက် လိုက်နာဆောင်ရွက်ခဲ့သောကြောင့်လည်းကောင်း၊ သတ်မှတ်ထားသော သို့တည်းမဟုတ် ပြန်လည်စည်းကြပ်သော သုံးလပါတ် မြေငှားခဖြင့် နောက်ထပ် နှစ်ပေါင်း ( ၃၀ ) အတွက် ဆက်လက်၍ အဆိုပါမြေကွက်ကို ငှားရမ်းမြေငှား စာချုပ်အသစ် ချုပ်ဆိုရန်သဘောတူကြောင်းကို အဆိုပါ ပထမနှစ်ပေါင်း ( ၃၀ ) မပြည့်မီ အနည်းဆုံး ( ၆ ) လ ကြိုတင်၍ အငှားရသူက အငှားချထားသူအား စာဖြင့်အကြောင်းကြားရမည်။ အကြောင်းကြားစာနှင့်အတူ ပထမ မြေငှားစာချုပ်ကို ပေးအပ်လျှင် ထိုအကြောင်းကြားစာ ရရှိသည့်နေ့မှ ( ၆ ) လအတွင်း နောက်နှစ်ပေါင်း ( ၃၀ ) အတွက် ပထမမြေငှားစာချုပ်ပါ ပဋိညာဉ်ခံချက်များနှင့် ဖြစ်နိုင်သမျှတူညီသည့် ပဋိညာဉ်ခံချက်များပါရှိသည့် မြေငှားစာချုပ်အသစ်ကို အငှားစာချုပ်ရသူ၏ စရိတ်ဖြင့် အငှားချထားသူက ထုတ်ပေးရန်၊ အကယ်၍ မြေငှားခကို သတ်မှတ်ခြင်းမရှိသေးလျှင် ပထမမြေငှားစာချုပ်အရ နောက်ဆုံးပေးဆောင်ခဲ့ရသော သုံးလပါတ်မြေငှားခကို အငှားစာချုပ်ရသူက ပေးဆောင်ရန်။

ဤစာချုပ်ပါ စကားရပ်များကို သိရှိနားလည်ကြပြီးဖြစ်သဖြင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တော် စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန၊ ဌာနမှူး နှင့် ဒုတိယဌာနမှူး တို့ရှေ့တွင် ဤကော်မတီ တံဆိပ်ကို ခပ်နှိပ်၍ အဆိုပါ ဌာနမှူး နှင့် အဆိုပါ ...ဦးရန်[illegible]၊ ဒေါ်[illegible]........................... သည် ဤစာချုပ်ကို အထက်၌ ဖော်ပြခဲ့သည့် နေ့ရက်တွင် လက်မှတ်ရေးထိုးကြပါသည်။

ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ

မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန

တံဆိပ်

တံဆိပ်ကို မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန
**ဌာနမှူး နှင့် ဒုတိယဌာနမှူးတို့ ရှေ့မှောက်၌**
**ခပ်နှိပ်၍ အဆိုပါ ဌာနမှူး နှင့်**
**ဒုတိယဌာနမှူးတို့ လက်မှတ်ရေးထိုးသည်။**

A 0032221 A

**အသိသက်သေ**

..............................
လက်ထောက်ဌာနမှူး
(မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန)

..............................
ဌာနမှူး

..............................22-11-18
ဒုတိယဌာနမှူး

အငှားစာချုပ်ရသူ .............................. က လက်မှတ်ရေးထိုးသည်။

..............................
အငှားစာချုပ်ရသူ

**အသိသက်သေ**

၁။ ..............................

၂။ ..............................
ဌာနခွဲမှူး
မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန

## အထက်တွင် ရည်ညွှန်းထားသည့်ဇယား

ခွင့်ပြုပြီး မြေပုံဖြစ်သော လူနေရပ်ကွက်အမှတ် ..............................

မြေတိုင်းရပ်ကွက်အမှတ် ......

ရန်ကုန်မြို့...................... မြို့နယ် အတွင်းရှိ .............................. တန်းစား၊ မြေကွက်အမှတ် ................ ဖြစ်သည့် ပူးတွဲပါမြေပုံ၌ မှင်နီဖြင့်ပြထားသော အလျား .............................. ပေ၊

အနံ .............................. ပေ၊ ခန့်ရှိသော အလားအလာ ~

အရှေ့လားသော် ..............................

အနောက်လားသော် ..............................

တောင်လားသော် ..............................

မြောက်လားသော် ..............................

အတွင်းရှိ မြေအားလုံးဧရိယာ .................. ဧက၊ ( စတုရန်းပေ .............................. )

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

# ရန်ကုန်မြို့တော်စည်ပင်သာယာရေးကော်မတီ







| | |
|---|---|
| ၂၀၁၇ /၂၀၁၈ ခုနှစ်သုံး မြေပုံမှ ရေးကူးပေးသည့် မှန်ကန်ကြောင်း သက်သေခံသည့် မြေငှားဂရန်မြေပုံ | |
| အမည်ပေါက် | [illegible] |
| မြေတိုင်းရပ်ကွက်အမှတ် | [illegible] - ၇ |
| လူနေရပ်ကွက်အမှတ် | - |
| မြေကွက်အမှတ် | ၁၂၁ |
| မြေအမျိုးအစား | [illegible] |
| အလျား ....................× အနံ .................... | |
| ဧရိယာ | ၆.၆၃၄ ဧက |
| မြို့နယ် | [illegible] |
| စကေး | ၁" = ၂၀၀' |
| ထုတ်ပေးသည့်အမှုတွဲအမှတ် | [illegible] ၂၀၁၇၀၀၂၃၆၄ ၆.၂.၂၀၁၇ |
| မြေတိုင်း(၂) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန | |
| မြေတိုင်း(၁) မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန | |
| A 0032221 A ဌာနခွဲမှူး မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာန | |

၂၀၁၇ /၁၈ ခုနှစ်သုံး မြေပုံ/မြို့ မြေစာရင်းမှ ရေးကူးသော ကောက်နုတ်ချက်မိတ္တူမြေပုံ/မြေရာဇဝင်ဖြစ်၍ တိကျမှန်ကန်ကြောင်း ထောက်ခံပါသည်။ (မြို့ပြစီမံကိန်းနှင့် မြေစီမံခန့်ခွဲမှုဌာန)

၇

# စက်မှု/လက်မှုလုပ်ငန်းဆောင်ရွက်ရန်အတွက်သာ အမည်ပေါက်လွှဲပြောင်းခြင်းမှတ်တမ်း

မြို့နယ် -

မြေတိုင်းရပ်ကွက်အမှတ် -

မြေကွက်အမှတ် -

ဧရိယာ -

မြေအမျိုးအစား -

မြေငှားစာချုပ်အမှတ် -

| အမှုတွဲအမှတ်<br>နေ့စွဲနှင့်<br>ခွင့်ပြုရက်စွဲ | ဂရန်အမည်ပေါက်<br>နှင့်<br>နိုင်ငံသားအမှတ် | လွှဲပြောင်းသည့်စာချုပ်<br>အမှတ်နှင့်ရက်စွဲ (သို့)<br>တရားရုံးဒီကရီနှင့်ရက်စွဲ | လွှဲပြောင်းခံရသူ (သို့)<br>တရားရုံးဒီကရီရရှိသူ၏<br>အမည်နှင့် နိုင်ငံသားအမှတ် |
|---|---|---|---|
| ၁ | ၂ | ၃ | ၄ |
| | | | |

ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

Mottama Logistics Co.,Ltd

တို့အကြား

ဆိပ်ကမ်းနယ်နမိတ်အတွင်းကျရောက်လျက်ရှိသော
ရန်ကုန်တိုင်းဒေသကြီး၊လှိုင်သာယာမြို့နယ်၊ဆိပ်ကမ်းသာလမ်း
စက်မှုဇုန်အပိုင်း(၇)၊မြေကွက်အမှတ်(၁၂၁) တွင်
ကုန်သေတ္တာနှင့် အထွေထွေကုန်စည်ကိုင်တွယ်နိုင်သော
ကွန်ကရစ်ဆိပ်ခံတံတားတည်ဆောက်ပြီး
ကုန်သေတ္တာများကို တင်/ချခြင်း ၊ထိန်းသိမ်းပို့ဆောင်ခြင်း
လုပ်ငန်းဆောင်ရွက်ရန်အတွက်ချုပ်ဆိုသည့်

မြေငှားစာချုပ် (မူကြမ်း)

၂၀၁၈ ခုနှစ် ၊ လ ( )ရက်

ဆိပ်ကမ်းရေပြင်နယ်နမိတ်အတွင်း ကျရောက်လျက်ရှိသော ရန်ကုန်တိုင်းဒေသကြီး၊

လှိုင်သာယာမြို့နယ်၊ ဆိပ်ကမ်းသာလမ်း၊ စက်မှုဇုန်အပိုင်း(၇) ၊ မြေကွက်အမှတ်(၁၂၁) ရှိ

လှိုင်မြစ်ကမ်းနဖူးတွင် ကုန်တင်/ချနှင့် အထွေထွေကုန်သေတ္တာ လုပ်ငန်း ကိုင်တွယ်နိုင်သော

ကွန်ကရစ်ဆိပ်ခံတံတား တည်ဆောက်ပြီး လုပ်ငန်းဆောင်ရွက်ရန်အတွက်

မြန်မာ့ဆိပ်ကမ်းအာဏာပိုင်

နှင့်

Mottama Logistics Co.,Ltd. တို့အကြား ချုပ်ဆိုသည့်

မြေငှားစာချုပ် (မူကြမ်း)

ဤမြေငှားစာချုပ်ကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်မြို့တွင် ၂၀၁၈ ခုနှစ်၊ ---------- လ ( )ရက်နေ့ ဦးနီအောင် ၊ ဦးဆောင်ညွှန်ကြားရေးမှူး ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန လက်အောက်ရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် (ဤမှနောင်တွင် "မြေငှားရမ်းသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပာယ်အရသော်လည်းကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)က တစ်ဖက်

နှင့်

ဒေါ်ရှောက်ဖွေ၊ မန်နေဂျင်းဒါရိုက်တာ၊ နိုင်ငံသားစိစစ်ရေးကဒ်ပြားအမှတ်၊ ၁၃/လရန(နိုင်)၁၁၇၀၀၀ ကိုယ်စားပြုသော ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထားသော ကုမ္ပဏီ ဖြစ်ပြီး ရန်ကုန်မြို့၊ ရွှေပြည်သာမြို့နယ်၊ စက်မှုဇုန်အပိုင်း(၂)၊ ဆိပ်ကမ်းသာလမ်း၊ မြေကွက်အမှတ်(၁၂၄/က-ခ)၊ တွင် တည်ရှိသည့်ကုမ္ပဏီဖြစ်သည့် Mottama Logistics Co.,Ltd. (ဤမှနောင်တွင် "မြေငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပာယ်အရ သော်လည်း ကောင်း ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ် များနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)က အခြားတစ်ဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

(က) "မြေငှားရမ်းသူ" သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာ မြို့နယ်၊ ဆိပ်ကမ်းသာလမ်း ၊စက်မှုဇုန်အပိုင်း(၇)ရှိ မြေကွက်အမှတ် (၁၂၁ )မြေနေရာကို ကျော ထောက် နောက်ခံပြု၍ ပူးတွဲ( )တွင် အနီရောင်ဖြင့် ဘောင်ခတ်ထားသော ရန်ကုန်မြစ်ကမ်းနဖူးရှိ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ စီရင်ပိုင်ခွင့်ရှိသော ရေဒေသဧရိယာ -------- စတုရန်းပေ (----------

စတုရန်းမီတာ = ------- ကေ)ကို ဥပဒေအရ တရားဝင်ပိုင်ဆိုင်ခွင့် ရှိကြောင်း ကိုယ်စားပြုအာမခံချက်ပေးသဖြင့်လည်းကောင်း၊

(ခ) " မြေငှားရမ်းသူ" က မိမိပိုင်မြေကို "မြေငှားချထားခြင်းခံရသူ" သို့ ငှားရမ်းလိုကြောင်းနှင့် " မြေငှားချထားခြင်းခံရသူ" ကလည်း "မြေငှားရမ်းသူ"ထံမှ မြေကိုငှားရမ်း၍ ကုန်တင်/ချ သေတ္တာနှင့် အထွေထွေကုန်သေတ္တာ လုပ်ကိုင်နိုင်သော ကွန်ကရစ်ဆိပ်ခံတံတားနှင့် လုပ်ငန်းသဘာဝအရ ဆက်စပ်နေသည့် အခြားအသုံးအဆောင်များ (နောင်တွင် " Mottama Logistics Hlaing Thar Yar Jetty "ဟု သုံးနှုန်းခေါ်ဆိုပါမည်) တည်ဆောက်နိုင်ရန်အတွက် ဤမြေငှားစာချုပ်တွင်ပါရှိသည့် အောက်ဖော်ပြပါ စည်းမျဉ်းစည်းကမ်းချက်များပါ ငှားရမ်းကာလအတိုင်း ငှားရမ်းအသုံးပြုလိုသည့်အပြင် အဆိုပါ ငှားရမ်းမြေပေါ်တွင် ဆိပ်ခံတံတားအပါအဝင် လုပ်ငန်းသဘာဝအရ ဆက်စပ်နေသည့် အခြားအသုံးအဆောင်များကို အကောင်အထည်ဖော်တည်ဆောက်၍ ဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့်ပြုရန် ချုပ်ဆိုသည့်မြေစာချုပ် (ဤမှနောင်တွင် " ဤစာချုပ် "ဟု ခေါ်ဆို ပါမည်) ပါ စည်းမျဉ်းစည်းကမ်းများနှင့်အညီ ငှားရမ်းအသုံးပြုရန် ဆန္ဒရှိသဖြင့်လည်းကောင်း၊

(ဂ) ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်က ပြဋ္ဌာန်းထားသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေပါ သတ်မှတ်ချက်နှင့်အညီ လုပ်ငန်းလုပ်ကိုင်ခွင့်ကာလသက်တမ်း/မြေငှားကာလသက်တမ်းကို ဤစာချုပ်၏ အပိုဒ်-၁ ပါ သတ်မှတ်ချက်နှင့်အညီ သဘောတူသဖြင့်လည်းကောင်း၊

ဤမြေငှားစာချုပ်ကို နှစ်ဦးနှစ်ဖက်အကြေအလည်ညှိနှိုင်းပြီး အောက်ပါအတိုင်း သဘောတူချုပ်ဆိုကြပါသည်-

၁။ အောက်ဖော်ပြပါအတိုင်း မြေအသုံးချမှုပရီမီယံနှင့် မြေငှားခကျသင့်ငွေများကို ပေးချေရန် သဘောတူညီချက်ကို ထောက်ထား၍ " မြေငှားရမ်းသူ" သည် " မြေငှားချထားခြင်း ခံရသူ" သို့ " Mottama Logistics Hlaing Thar Yar Jetty " အား မြေငှားစာချုပ်ကာလသက်တမ်းကို ဤမြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ နှစ်ပေါင်း(၅၀)နှစ်ခွင့်ပြုရန် သဘောတူညီပြီး၊ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့် နောက်ထပ် သက်တမ်းတိုးမြှင့်ခြင်းကို သက်တမ်းတစ်ကြိမ်လျှင် (၁၀)နှစ်နှင့် (၂)ကြိမ် တိုးမြှင့်ခွင့်ပြုနိုင်သည်-

(က) **မြေအသုံးချမှုပရီမီယံကြေး ။** " Mottama Logistics Hlaing Thar Yar Jetty " အတွက် ငှားရမ်းသည့်မြေနှင့် ပတ်သက်၍ " မြေငှားချထားခြင်းခံရသူ" က " မြေငှားရမ်းသူ "ထံ မြေတစ်ကေလျှင် ငွေကျပ် ---------------- (ကျပ်------------------------------တိတိ)နှုန်းဖြင့် စုစုပေါင်း

(------)ဧကအတွက် မြေအသုံးချမှု ပရီမီယံကြေးအဖြစ် ငွေကျပ် --------------/- (ငွေကျပ်သိန်း-----------------တိတိ)ကို အောက်ပါအတိုင်း ပေးချေသွားမည်ဖြစ်ပါသည်-

(၁) စာချုပ်လက်မှတ်ရေးထိုးပြီး ၁ (တစ်)လအတွင်း ကျပ် -------------/- (ကျပ်သိန်း-------နှင့်------------တိတိ)ကို ပထမအရစ်အဖြစ် ပေးချေရမည်။

(၂) စာချုပ်လက်မှတ်ရေးထိုးပြီး ၁၂ (တစ်ဆယ့်နှစ်)လ အတွင်း ကျပ် -------------/- (ကျပ်သိန်း------------------တိတိ)ကို ဒုတိယအရစ်အဖြစ် ပေးချေရမည်။

(၃) အထက်ပါသတ်မှတ်ချက်အတိုင်း မြေအသုံးချမှုပရီမီယံကြေး ပေးဆောင်ရန် ပျက်ကွက်ပါက ဤစာချုပ်၏အပိုဒ် ၁၂ (ခ)အရ စာချုပ်ကို ရပ်စဲနိုင်သည်။

(ခ) မြေငှားရမ်းခ။ " Mottama Logistics HTY Jetty " အတွက် ငှားရမ်းသည့် မြေနှင့်ပတ်သက်၍ တည်ဆောက်ရေးကာလ စေ့ရောက်သည့်နေ့မှစ၍ လစဉ်မြေငှားရမ်းခကို "မြေငှားချထားခြင်းခံရသူ"က " မြေငှားရမ်းသူ"ထံ ပေးချေရမည်-

ဆိပ်ခံတံတားအတွက် မြေငှားရမ်းခ ------- ဧက = ကျပ် ---------------/-

(-------------- စတုရန်းမီတာ × ----°/- )

(၁) သက်ဆိုင်ရာ ဘဏ္ဍာရေးနှစ်အတွက် ကျသင့် မြေငှားရမ်းခကို ၃ (သုံး)လ တစ်ကြိမ် ပေးချေရပါမည်။

(၂) အထက်စာပိုဒ် ၁(က)ပါ မြေအသုံးချမှုပရီမီယံကြေး၊ ၁(ခ)ပါ လစဉ်မြေငှားရမ်းခတို့အတွက် ကျသင့်ငွေများကို သတ်မှတ်ချက်အတိုင်း ပေးဆောင်ရန် ပျက်ကွက်ပါက ဤမြေငှားစာချုပ်၏ အပိုဒ် ၁၂ (ခ)ပါ သတ်မှတ်ချက်အတိုင်း စာချုပ်ကို ရပ်စဲနိုင်သည်။

၂။ ဤမြေငှားစာချုပ်သည် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးသည့်နေ့တွင် စတင်အကျိုးသက်ရောက်စေရမည်။

၃။ " မြေငှားချထားခြင်းခံရသူ " " မြေငှားရမ်းသူ " ထံသို့ အောက်ပါအတိုင်း ခံဝန်ကတိပြုသည်-

(က) ငှားရမ်းသည့် မြေအားလုံးကိုသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသကိုသော်လည်းကောင်း၊ ထပ်ဆင့်အငှားချထားခြင်း၊ ပေါင်နှံခြင်းမပြုရ။

(ခ) " Mottama Logistics Hlaing Thar Yar Jetty " နှင့် ပတ်သက်သည့် တည်ဆောက်မည့် ဆိပ်ခံတံတား၊ တံတားပေါ်တွင် တပ်ဆင်အသုံးပြုမည့် ကုန်ကိုင်တွယ် စက်ကိရိယာများ၊ ယန္တရားများနှင့် ဆက်နွယ်သည့် ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်အားလုံးကို ကျခံရမည်။

(ဂ) ခေတ်မီဆိပ်ခံတံတား တည်ဆောက်ရာတွင်လည်းကောင်း၊ တံတားပေါ်တွင် ကုန်ကိုင်တွယ် စက်ကိရိယာများနှင့် ယန္တရားများ တပ်ဆင်အသုံးပြုရာတွင်လည်းကောင်း သတ်မှတ်စံချိန်စံညွှန်း များနှင့်အညီ ဆောင်ရွက်သွားရမည်။

(ဃ) ငှားရမ်းသည့်မြေနေရာသို့ "မြေငှားရမ်းသူ "၏ ကိုယ်စားတာဝန်ပေးအပ်ခြင်း ခံရသူများအား ၄င်းတို့၏ လုပ်ငန်းတာဝန်ကို လုပ်ဆောင်ရန်အလို့ငှာ ဝင်ရောက်ခွင့်ပြုရမည်။

(င) ငှားရမ်းသည့်မြေ (သို့မဟုတ်) ၄င်း၏အစိတ်အပိုင်းပေါ်တွင် အကောင်အထည်ဖော် ဆောင်ရွက်မည့် လုပ်ဆောင်မှုများနှင့် လုပ်ငန်းဆောင်ရွက်မှုများ အားလုံးသည် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေနှင့် အညီအညွတ်ဖြစ်ရမည်။

(စ) ငှားရမ်းသည့်မြေ (သို့မဟုတ်) ၄င်း၏အစိတ်အပိုင်းပေါ်တွင် ကျသင့်မည့် လျှပ်စစ်မီတာ၊ ရေနှင့် စည်ပင်သာယာအခွန်များ၊ နှုန်းထားများ (သို့မဟုတ်) စည်းကြပ်ခွန်များအားလုံးကို ပေးချေရမည်။

၄။ "မြေငှားရမ်းသူ" သည် " မြေငှားချထားခြင်းခံရသူ" သို့ အောက်ပါအတိုင်း ခံဝန်ကတိပြုပါသည်-

(က) " မြေငှားရမ်းသူ " ငှားရမ်းသည့်မြေတွင် "Mottama Logistics Hlaing Thar Yar Jetty" နှင့် သက်ဆိုင်သည့် ဆိပ်ခံတံတား တည်ဆောက်နိုင်ရန်အလို့ငှာ လက်ရောက်ပေးအပ်ငှားရမ်း ရမည်ဖြစ်သည်။

(ခ) " မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းသည့်မြေသို့ ရည်မှန်းထားသည့် လုပ်ငန်းတာဝန်နှင့် သင့်မြတ်လျော်ကန်သော အသုံးအဆောင်များ ဆောက်လုပ်ရန်အတွက် ငြိမ်သက်စွာနှင့် အေးငြိမ်စွာ ဝင်ရောက်နိုင်ခွင့်ရှိသည်။ သို့ရာတွင် ဆိပ်ခံတံတား၏ ပုံစံဒီဇိုင်းကို "မြေငှားရမ်းသူ" ၏ အတည်ပြုချက် ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ဂ) " မြေငှားချထားခြင်းခံရသူ" သည် မြေငှားစာချုပ်သက်တမ်းကာလအတွင်း မည်သည့်အနှောင့် အယှက်၊ အဟန့်အတားမှမရှိဘဲ၊ " မြေငှားရမ်းသူ " ယုံမှတ်အပ်နှံခံရသူအနေဖြင့် ငှားရမ်း သည့်မြေကို ငြိမ်သက်စွာနှင့် အေးငြိမ်းစွာ လက်ဝယ်ရယူထားနိုင်ခွင့်ရှိသည်။

၅။ "မြေငှားချထားခြင်းခံရသူ" သည် ဤမြေငှားစာချုပ်ကို လက်မှတ်ရေးထိုးမှုကြောင့် ပေါ်ပေါက်လာသော တံဆိပ်ခေါင်းခွန်ကို ပေးချေရန်အတွက်လည်းကောင်း၊ မြေငှားစာချုပ်၏ ရည်ရွယ်ချက်ကို အကောင် အထည်ဖော်ခြင်း၊ အဆောက်အဦးများ ဆောက်လုပ်ခြင်းနှင့် လုပ်ငန်းဆောင်ရွက်ခြင်းတို့ကြောင့် ပေါ်ပေါက်လာသော အခွန်အခများကို ပေးချေရန်အတွက်လည်းကောင်း တာဝန်ရှိသည်။

၆။ "မြေငှားချထားခြင်းခံရသူ " သည် " မြေငှားရမ်းသူ " ၏ တရားဝင်စာဖြင့် ခွင့်ပြုချက်မရရှိဘဲ ဤမြေငှား စာချုပ်၏ ရည်ရွယ်ချက်တစ်စုံတစ်ရာကို ပြောင်းလဲခြင်း (သို့မဟုတ်) တည်ဆောက်ထားသော ဆိပ်ခံ တံတား၏ ပုံစံဒီဇိုင်းကို ပြုပြင်ပြောင်းလဲခြင်း မပြုရန် သဘောတူပါသည်။

၇။ " မြေငှားချထားခြင်းခံရသူ" သည် ငှားရမ်းသည့်မြေတွင် ဤစာချုပ်ပါအတိုင်း လုပ်ငန်းဆောင်ရွက်နေစဉ် ကာလအတွင်း မမျှော်လင့်ဘဲ ဓါတ်သတ္တုအရင်းအမြစ်များ၊ အဖိုးတန်ကျောက်မျက်ရတနာများ၊ ရှေးဟောင်းပစ္စည်းများတွေ့ရှိလျှင် " မြေငှားရမ်းသူ"ထံသို့ ချက်ချင်းအကြောင်းကြားရမည်ဖြစ်ပြီး ထိုပစ္စည်းများကို နိုင်ငံတော်ပိုင်ဖြစ်စေရသည်။

" မြေငှားရမ်းသူ" သည် အဆိုပါပစ္စည်းများကို သက်ဆိုင်ရာအစိုးရအဖွဲ့အစည်းသို့ တင်ပြ၍ အတည်ပြုချက်ရယူပြီး မည်သည့်အချိန်တွင်မဆို လွတ်လပ်စွာ တူးဖော်ရယူခွင့် ရှိစေရမည်။

ပြောင်းလဲခြင်းနှင့် ဖြည့်စွက်ခြင်းများ ဆောင်ရွက်နိုင်ရန် သဘောရိုးဖြင့် ညှိနှိုင်းဆွေးနွေးရမည်။

၈။ ဤမြေငှားစာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည် -

(က) လုပ်ငန်းတွင် ကြီးမားစွာ ဆက်တိုင်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) ဤစာချုပ်ပါ တာဝန်များနှင့် စည်းကမ်းချက်တစ်ရပ်ရပ်ကို စာချုပ်ဝင်တစ်ဖက်ဖက်က ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၊ အဆိုပါပျက်ကွက်မှုအတွက် ပျက်ကွက်ခြင်းမရှိသည့် စာချုပ်ဝင်မှ ကုစားပေးရန် အကြောင်းကြားစာပေးပို့သည့်နေ့မှ ရက်ပေါင်း ၉၀ (ကိုးဆယ်)အတွင်း ပျက်ကွက် သူက ကုစားပေးရန် ပျက်ကွက်ခြင်း။

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းလည်းမပြုနိုင်သော မလွန်ဆန်နိုင်သော ဖြစ်ရပ် တစ်ရပ်သည် တစ်ဆက်တည်း (၆)လထက် ကျော်လွန်ဖြစ်ပွားခြင်း၊

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို အကောင်အထည်ဖော်နိုင်စွမ်းမရှိတော့ခြင်း၊

(င) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ နှစ်ဦး နှစ်ဖက် သဘောတူညီချက်ဖြင့် မြေငှားစာချုပ်ကို ရပ်စဲခြင်း၊

(စ) စာချုပ်သက်တမ်းကုန်ဆုံးခြင်း၊

၉။ မြေငှားစာချုပ်ဝင်အသီးသီးတို့သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တရားဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၄င်းတွင် ဤမြေငှား စာချုပ်ကို ချုပ်ဆိုနိုင်ရန်အလို့ငှာ လုပ်ပိုင်ခွင့်အာဏာ၊ ခိုင်မာသောဘဏ္ဍာရေးရပ်တည်မှုနှင့် အခွင့်အာဏာ ရှိသူဖြစ်ကြောင်း ကိုယ်စားပြုအာမခံချက်ပေးပါသည်။

